ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/န-CMP/၂၀၁၇ ( ၃၂၈ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မတ်လ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nan Tong Great One Myanmar Company Limited၊ Kaixi (Myanmar) Lingerie Industrial Company Limited နှင့် Sinoproud (Myanmar) Garment Company Limited တို့မှ လည်းကောင်း ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Asian Just Company Limited မှလည်းကောင်း CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nan Tong Great One Myanmar Company Limited ၊Kaixi (Myanmar) Lingerie Industrial Co.,Ltd. နှင့် Sinoproud (Myanmar) Garment Company Limited တို့မှလည်းကောင်း ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asian Just Company Limited မှလည်းကောင်း CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းများနှင့် သက်ဆိုင်သော အချိန်ဇယား၊ ခန့်မှန်းခြေအကျိုးအမြတ်၊ လုပ်ငန်းနှင့် ပတ်သက်သောအချက်အလက်အကျဉ်း၊ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် CMP လုပ်ငန်း များကြီးကြပ်ရေး ကော်မတီတို့၏ လုပ်ငန်းဆောင်ရွက်မှု အပေါ်ခွင့်ပြုကြောင်း သဘောထား မှတ်ချက်များကို ပူးတွဲအဖြစ် တင်ပြအပ်ပါသည်။

၃။ အဆိုပြုတင်ပြချက်များအရလုပ်ငန်းများ၏အဓိကအချက်အလက်များဖြစ်သော တည်နေရာ၊ စုစုပေါင်းမတည်ငွေရင်း၊ ထုတ်လုပ်မည့်ပစ္စည်း၊ လုပ်သားအင်အား၊ မြေငှားကာလနှင့် မြေငှားရမ်းခ စသည့်အချက်တို့မှာ အောက်ပါအတိုင်းဖြစ်ကြောင်း တင်ပြအပ်ပါသည်-

| | တည်နေရာ | စုစုပေါင်း မတည်ငွေ ရင်း US$ (သန်း) | ထုတ်လုပ်မည့် ပစ္စည်း | လုပ်သား အင်အား | မြေငှားရမ်း ကာလ | နှစ်စဉ်မြေနှင့် အဆောက် အဦ ငှားရမ်းခ/ တစ် စတုရန်းမီတာနှုန်း |
|---|---|---|---|---|---|---|
| Nan Tong Great One Myanmar | မြေကွက်အမှတ်-၇၀ ၊ စက်မှုဇုန်-၂လှိုင်သာယာ | ၁.၂၁ | Coat, Jackets, Pants | ၁၆၇၆ ဦး ပြည်တွင်း ၁၆၆၅ ဦး | ကနဦး ၃၀ နှစ် နှင့် သက်တမ်း | ကျပ် ၂၄.၀၀ သန်း (တစ်နှစ် တစ် စတုရန်းမီတာ |

| | တည်နေရာ | စုစုပေါင်း မတည်ငွေ ရင်း US$ (သန်း) | ထုတ်လုပ်မည့် ပစ္စည်း | လုပ်သား အင်အား | မြေငှားရမ်း ကာလ | နှစ်စဥ်မြေနှင့် အဆောက် အဦ ငှားရမ်းခ/ တစ် စတုရန်းမီတာနှုန်း |
|---|---|---|---|---|---|---|
| Company Limited | မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | | | ပြည်ပ ၁၁ ဦး | တိုး ၁၀ နှစ် ၂ကြိမ် | လျှင် ကျပ် ၃,၆၅၂.၄၅ နှုန်း) |
| Kaixi (Myanmar) Lingerie Industrial Company Limited | မြေကွက်အမှတ်-၅၈၊ မြေတိုင်းရပ်ကွက် အမှတ်-၂၄၊ ငွေပင်လယ်စက်မှု ဇုန်၊လှိုင်သာယာ မြို့နယ်၊ရန်ကုန် တိုင်းဒေသကြီး | ၃.၅ | Brassieres, Briefs | ၁၃၅၀ ဦး ပြည်တွင်း ၁၃၂၈ ဦး ပြည်ပ ၂၂ ဦး | ၁၀ နှစ် | US$ ၅၀,၀၀၀ (၁နှစ် တစ်စတုရန်း မီတာလျှင်US$ ၅.၅ နှုန်း) |
| Sinoproud (Myanmar) Garment Co., Ltd. | မြေကွက် အမှတ်-၅၊ မြေတိုင်းရပ်ကွက် အမှတ် ရလပ-၂၅၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၁.၀၀ | Sweater, Shirt, Win Coat, Cotton-padded, Pant | ၆၇၃ ဦး ပြည်တွင်း ၆၆၅ ဦး ပြည်ပ ၈ ဦး | ကနဦး ၃၀ နှစ် သက်တမ်း တိုး ၅ နှစ် | ကျပ် ၇၈ သန်း တစ်နှစ် တစ်စတုရန်း မီတာလျှင် ကျပ် ၇၉၀၅.၇၅ နှုန်း |
| Asian Just Company Limited | မြေကွက်အမှတ်- ၁၅၀၊၁၅၁၊ မြေတိုင်း ရပ်ကွက်အမှတ်- ၆၄(စက်မှု)၊ ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | ၀.၅၇ | Jackets, Pants, Men's Coats | ၁၈၅၅ ဦး ပြည်တွင်း ၁၈၅၀ ဦး ပြည်ပ ၅ ဦး | ၃၀ နှစ် | US$ ၃၆,၀၀၀ (တစ်နှစ် တစ်စတုရန်း မီတာ လျှင် US$ ၁.၉၂ နှုန်း) |

၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၅။ အဆိုပါလုပ်ငန်းများသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန်ထားသည့် အမိန့်ကြော်ငြာစာအမှတ်(၂၆/၂၀၁၆) စီးပွားရေး လုပ်ငန်းအမျိုး အစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်

ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၄၃/၂၀၁၆(၂၁-၁၁-၂၀၁၆)၊ ၄၄/၂၀၁၆ (၂၈-၁၁-၂၀၁၆)နှင့် ၄၆/၂၀၁၆(၁၂-၁၂-၂၀၁၆) အစည်းအဝေးများသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၇။ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်းစိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nan Tong Great One Myanmar Company Limited ၊Kaixi (Myanmar) Lingerie Industrial Co.,Ltd. နှင့် Sinoproud (Myanmar) Garment Company Limited တို့မှလည်းကောင်း ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Asian Just Company Limited မှလည်းကောင်း CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Nan Tong Great One Myanmar Company Limited ၊ Kaixi (Myanmar) Lingerie Industrial Co.,Ltd. နှင့် Sinoproud (Myanmar) Garment Company Limited တို့မှ လည်းကောင်းဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Asian Just Company Limited မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်များတင်ပြလာခြင်းကိစ္စ

| | | | | | |
|---|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Nan Tong Great One Myanmar Company Limited<br>Mrs. Zhang, Rong (တရုတ်လူမျိုး) | - Asian Just Company Limited<br>ဦးမောင်မောင်ဦး (ခ) ဝင်စေလိန်(မြန်မာ) | - Kaixi (Myanmar)Lingerie Industrial Company Limited<br>- Mr. Xiao, Hongkai (Chinese) | - Sinoproud (Myanmar) Garment Company Limited<br>- Mr. Zhao, Bingxue (တရုတ်လူမျိုး) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mrs. Zhang, Rong (တရုတ်လူမျိုး) ၆၀ %<br>- Mr. Shi, Pengfei (တရုတ်လူမျိုး) ၄၀% | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>-Just Company Limited (Japan) ၃၆.၈%<br>- Musashi Fusou Corporation (Japan) ၃၃.၈%<br>ဦးမောင်မောင်ဦး (ခ) ဝင်စေလိန် ၂၉.၄% | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Shantou City Kaixi Lingerie Industrial Co., Ltd. (China) ၉၉.၉၉၉၇%<br>- Ms. Hong Lihua (Chinese) ၀.၀၀၀၃% | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Zhao, Bingxue (တရုတ်လူမျိုး) ၉၉%<br>Ms. Jianmei Zhou (တရုတ်လူမျိုး) ၁% |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၇၀ ၊ စက်မှုဇုန်-၂၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီး | - မြေကွက်အမှတ်-၁၅၀၊ ၁၅၁၊ မြေတိုင်းရပ်ကွက် အမှတ်-၆၄(စက်မှု)၊ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး | - မြေကွက်အမှတ်-၅၈၊ မြေတိုင်းရပ်ကွက်အမှတ်-၂၄၊ ငွေပင်လယ်စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ရန်ကုန် တိုင်းဒေသကြီး | - မြေကွက်အမှတ်-၅၊ မြေတိုင်းရပ်ကွက် အမှတ်-ရလပ-၂၅၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| | မြေပိုင်ရှင် | ဒေါ်သန်းသန်းဝင်း | ဦးမောင်မောင်ဦး(ခ) ဝင်စေလိန် | - ဦးမျိုးသန့် | - ဒေါ်မြသန်းကြည်(ခ) ဒေါ်ခင်ဒွေးဝင်း<br>- ဦးကောင်းပေါ် (ခ) ဦးအောင်ထွန်းဝင်း |
| | မြေအကျယ်အဝန်း | - ၁.၆၀၈ ဧက (၆,၅၀၇.၉၃ စတုရန်းမီတာ) | - ၄.၆၃၃ ဧက (၁၈၇၄၉.၁၀ စတုရန်းမီတာ) | - ၂.၂၄၇ ဧက (၉,၀၉၃.၂၉၄ စတုရန်းမီတာ) | - ၂.၄၃၈ ဧက (၉,၈၆၆.၂၄ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - (၈၀ ပေ x ၁၀၀ ပေ ) စက်ရုံ အဆောက်အဦ ၁ လုံး<br>- (၂၀ ပေ x ၃၀ ပေ ) ရုံးအဆောက်အဦ ၁ လုံး | - ၃၀၀ ပေ x ၃၀၀ ပေ တစ်ထပ်အဆောက်အဦ ၁ လုံး<br>- ၂၀၀ ပေ x ၂၅၀ ပေ နှစ်ထပ်အဆောက်အဦ ၁ လုံး | - ၄၀,၀၀၀ စတုရန်ပေ ၃ ထပ်အဆောက်အဦ ၁ လုံး<br>- ၄,၀၀၀ စတုရန်းပေ ၃ ထပ်အဆောက်အဦ ၁ လုံး | - (၃၁၅ ပေ x ၁၇၈ ပေ ) နှစ်ထပ်စက်ရုံအဆောက်အဦ ၁ လုံး<br>- (၁၃၂ ပေ x ၄၈ ပေ ) ၃ ထပ် ရုံးအဆောက်အဦ ၁ လုံး |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် | - ၃၀ နှစ် | - ၁၀ နှစ် | - ကနဦး ၃၀ နှစ် သက်တမ်းတိုး ၅နှစ် |
| ၃။ | နှစ်စဉ် မြေငှားရမ်းခ | - ကျပ် ၂၄.၀၀ သန်း<br>- ၁ နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၃,၆၅၂.၄၅ နှုန်း | - US$ ၃၆,၀၀၀<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁.၉၂ နှုန်း) | - US$ ၅၀,၀၀၀<br>- ၁နှစ်တစ်စတုရန်းမီတာလျှင်US$၅.၅ နှုန်းဖြစ်ပါသည်။ | ကျပ် ၇၈.၀၀ သန်း<br>- ၁ နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၇၉၀၅.၇၅ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် | - ၃၀ နှစ် | - ၅၀ နှစ် | - ကနဦး ၃၀ နှစ် သက်တမ်းတိုး ၅ နှစ် |
| | တည်ဆောက်မှုကာလ | - ၆ လ | - - | - ၁ နှစ် ၆ လ | - ၃ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US $ ၁.၂၀ သန်း | - US $ ၀.၅၇ သန်း | - US$ ၃.၅ သန်း | - US$ ၁.၀၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **US$(သန်း)** | **US$(သန်း)**<br>**နိုင်ငံခြား မတည်ငွေရင်း(၇၀.၆%)** ၀.၄၀၃၂<br>**နိုင်ငံသားမတည်ငွေရင်း(၂၉.၄%)** ၀.၁၆၈၀<br>**စုစုပေါင်းမတည်ငွေရင်း** ၀.၅၇၁၂<br>နိုင်ငံခြားမတည်ငွေရင်းနှင့် နိုင်ငံသား မတည်ငွေရင်း ဖော်ပြချက်တွင် ငွေသားမှာ ယခင်နိုင်ငံသားပိုင် ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်ထား သည့်ငွေသား၊ စက်ပစ္စည်းများအား တန်ဖိုးသင့်တွက်ချက်ပြီး ထည့်ဝင်ထားခြင်း ဖြစ်ပါသည်။ | **US$(သန်း)** | **US$(သန်း)** |
| | ငွေသား | ၀.၄၅ | | ၀.၂၈ | ၀.၁၅ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၂၉ | | ၂.၀၄ | ၀.၆၅ |
| | အဆောက်အဦကုန်ကျစရိတ် | - | | ၀.၇၀ | - |
| | ရုံးအသုံးအဆောင်ပစ္စည်း(ပြည်တွင်း) | ၀.၀၁ | | ၀.၄၀ | ၀.၁၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | ၀.၃၈ | | ၀.၀၂ | ၀.၁၀ |
| | ဘိုင်လာနှင့်ထရန်စဖော်မာ (ပြည်တွင်းဝယ်) | ၀.၀၈ | | - | - |
| | မော်တော်ယာဉ်(ပြည်တွင်း) | | | ၀.၀၆ | |
| | စုစုပေါင်း | ၁.၂၀ | | ၃.၅၀ | ၁.၀၀ |



CMPSalientPts42017

| | | | | | |
|---|---|---|---|---|---|
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၁၆၇၆ ဦး | - ၁၈၅၅ ဦး | - ၁,၃၅၀ဦး | - ၆၇၃ ဦး |
| | ပြည်တွင်း | - ၁၆၆၅ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး လစာ ကျပ် ၄၀၀,၀၀၀) | ၁,၈၅၀ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး အနိမ့်ဆုံး၏ လစာ ကျပ် ၁၂၅,၀၀၀၊ လစာမှာ ကျပ် ၄၀၀,၀၀၀) | - ၁,၃၂၈ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ ၊ အမြင့်ဆုံး လစာမှာ ကျပ် ၄၈၀,၀၀၀) | - ၆၆၅ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၀၈,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၄၅၀,၀၀၀) |
| | ပြည်ပ | - ၁၁ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ US$ ၅၀၀ နှင့် အမြင့်ဆုံးလစာ US$ ၁,၀၀၀) | ၅ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၆၀၀၊ အမြင့်ဆုံး လစာမှာ US$ ၁၂၀၀) | - ၂၂ ဦး (ပြည်ပအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၄၀၀၊ အမြင့်ဆုံး လစာမှာ US$ ၆၀၀) | - ၈ဦး (ပြည်ပအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US $ ၁,၄၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US $ ၂,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပတင်ပို့ခြင်း | - ၁၀၀ % ပြည်ပတင်ပို့ခြင်း | - ၁၀၀ % ပြည်ပတင်ပို့ခြင်း | - ပြည်ပသို့ ၁၀၀% တင်ပို့မည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US $ ၃.၉၅ သန်း | - ကျပ် ၆,၀၉၂.၈၉၅ သန်း | - US $ ၈.၀၀ သန်း | - US $ ၃.၃၅ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US $ ၃.၈၉ သန်း | - ကျပ် ၅,၇၃၃.၄၆၅ သန်း | - US $ ၅.၇၉ သန်း | - US $ ၃.၂၉ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US $ ၀.၀၆ သန်း | - ကျပ် ၃၅၉.၄၃၀ သန်း | - US $ ၂.၂၁ သန်း | - US $ ၀.၀၆ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်)<br>ဝင်ငွေခွန် | -US $ ၀.၀၂ သန်း<br>(၁ US$ = ၁,၂၉၀ ကျပ်နှုန်းဖြင့် တွက်ချက် ထားပါသည်။) | -ကျပ် ၁၁၉.၈၁၀ သန်း<br>(၁ US$ = ၁,၁၉၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။) | - US $ ၀.၅၅ သန်း<br>(၁ US$ = ၁,၂၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါ သည်။) | - US $ ၀.၀၂ သန်း<br>(၁ US$ =၁,၂၆၀ ကျပ်နှုန်းဖြင့် တွက်ချက်တင်ပြထား ပါသည်။) |
| | အရင်းကြေကာလ | - ၁ နှစ် ၅ လ | - ၂ နှစ် ၇ လ | - ၄ နှစ် ၈ လ | - ၇ နှစ် |
| | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၉.၆၇ % | - ၅၂.၅၄ % | - ၃၁.၁၉ % | - ၇.၁၄% |
| ၁၀။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၅၅,၀၀၀ ယူနစ် | - ၉၃၀,၀၀၀ kWh | - ၂,၅၇၅,၀၀၀ kWh | - ၂၅၀,၀၀၀ Unit |
| ၁၁။ | ထုတ်လုပ်မှုနှင့် CMP လက်ခနှုန်း (၆ နှစ် မြောက်) | အမျိုးအစား / ထုတ်လုပ်မှု အရေအတွက် (doz) / CMP လက်ခနှုန်း (US$/doz)<br>Coat / ၄၂,၀၀၀ / ၃၅.၀၀<br>Jacket / ၄၄,၀၀၀ / ၂၈.၀၀<br>Pants / ၅၀,၀၀၀ / ၂၅.၀၀ | အမျိုးအစား / ထုတ်လုပ်မှု အရေအတွက် (unit) / CMP လက်ခနှုန်း (US$/unit)<br>Jacket / ၅၂,၀၀၀ / ၁၀.၀၄<br>Pants / ၃၆၀,၀၀၀ / ၇.၇၄<br>Men's Coat / ၅၃၀,၀၀၀ / ၃.၃၂ | အမျိုးအစား / ထုတ်လုပ်မှု အရေအတွက် (pcs) / CMP လက်ခနှုန်း (US$/pcs)<br>Brassieres / ၁၀,၀၀၀,၀၀၀ / ၀.၅၀<br>Briefs / ၁၀,၀၀၀,၀၀၀ / ၀.၃၀ | ထုတ်လုပ်မှု အရေအတွက် (pcs) / CMP လက်ခနှုန်း (US$/pcs)<br>Sweater / ၁၇၀,၀၀၀ / ၃.၃၀<br>Shirt / ၂၇၈,၇၂၄ / ၁.၈၀<br>Wind Coat / ၄၁၈,၁၇၆ / ၃.၅၀<br>Cotton-padded / ၂၇၈,၇၈၄ / ၃.၁၀<br>Pant / ၁၇၄,၂၄၀ / ၁.၇၀ |
| ၁၂။ | CSR | - ၁ % | - ၂ % | - ၂ % | - ၂ % |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံ ချက် | - မီးဘေးကာကွယ်ရေး စီမံချက်ရေးဆွဲ တင်ပြထားပါ သည်။ | - မီးဘေးကာကွယ်ရေး စီမံချက် ရေးဆွဲ တင်ပြထားပါ သည်။ | - မီးဘေးကာကွယ်ရေး စီမံချက် ရေးဆွဲ တင်ပြထားပါ သည်။ | - မီးဘေးကာကွယ်ရေး စီမံချက်ရေးဆွဲ တင်ပြထား ပါသည်။ |

| | | | | | |
|---|---|---|---|---|---|
| ၁၄။ | ငွေကြေးအထောက်အထား | - ငွေရေးကြေးရေး အထောက်အထား အဖြစ် Nang Tong Great One Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် (ကျောက်တံတားဘဏ်ခွဲ) တွင် ၂၉-၉-၂၀၁၆ ရက်စွဲဖြင့် US$ ၃၀,၀၈၉.၇၀ ရှိကြောင်း အထောက်အထား တို့အား တင်ပြထားပါသည်။ | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Just Company Limited သည် Nagoya Corporate Banking Division ရှိ Sumitomo Mitsui Banking Corporation တွင် ၁-၁၁-၂၀၁၆ ရက်နေ့အထိ US$ ၄,၈၃၉,၅၁၉.၀၉ ရှိကြောင်းနှင့် Musashi Fusou Coporation သည် Bank of TOKYO-MITSUIBISHI UFG တွင် ၂၄-၁၀-၂၀၁၆ အထိ Yen ၃၁၀,၃၀၅,၄၄၃ (US$ ၂,၇၇၆,၂၆၀) ရှိကြောင်း ထောက်ခံစာတို့အား တင်ပြ ထားပါသည်။ | ငွေရေးကြေးရေး အထောက်အထားအဖြစ် Shantou Kaixi Lingerie Industrial Co., Ltd. သည် Agricultural Bank of China တွင် ၂၃-၉-၂၀၁၆ ရက်စွဲဖြင့် ယွမ် ၁၀၅၀၇၆.၆၆ (US$ ၁၅,၂၃၉.၅၃၂) ရှိကြောင်းနှင့်ငွေကြေးရှိကြောင်း ထောက်ခံစာ အထောက်အထားများ အား တင်ပြထားပါသည်။ | - ငွေရေးကြေးရေး အထောက်အထား အဖြစ် တရုတ်ပြည်သူ့ သမ္မတနိုင်ငံ Agricultural Bank Of CHINA တွင် ၁-၈-၂၀၁၆ ရက်နေ့အထိ Y ၄,၉၃၈,၇၃၂.၀၈ (US$ ၇၁၃,၆၇၄) ရှိကြောင်း ထောက်ခံစာ အား တင်ပြထားပါသည်။ |
| ၁၅။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (အကြိမ်/ရက်စွဲ) | - ၄၃/၂၀၁၆(၂၁-၁၁-၂၀၁၆) | - ၄၆/၂၀၁၆ (၁၂-၁၂-၂၀၁၆) | - ၄၄/၂၀၁၆(၂၈-၁၁-၂၀၁၆) | - ၄၄/၂၀၁၆(၂၈-၁၁-၂၀၁၆) |
| ၁၆။ | Cost & Benefit | - ၁ း ၉ | - ၁ း ၆ | - ၁ း ၆ | - ၁ း ၉ |
| ၁၇။ | စုစုပေါင်း ကြာမြင့်ရက် | - ၈၇ ရက် | - ၅၉ ရက် | - ၅၆ ရက် | - ၉၈ ရက် |
| ၁၈။ | သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သဘောထားမှတ်ချက်အကျဉ်းချုပ် | | | | |
| | တိုင်းဒေသကြီး အစိုးရအဖွဲ့ | - **ရန်ကုန်ဒေသကြီးအစိုးရအဖွဲ့**မှအဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်ပြန် ကြားထားပါသည်။ | - **ရန်ကုန်ဒေသကြီးအစိုးရအဖွဲ့**မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်ပြန် ကြားထားပါသည်။ | - **ရန်ကုန်ဒေသကြီးအစိုးရအဖွဲ့**မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်ပြန် ကြားထားပါသည်။ | - **ရန်ကုန်ဒေသကြီးအစိုးရအဖွဲ့**မှ အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်ပြန် ကြားထားပါသည်။ |
| | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | - ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင် အထည် ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်း ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ နှင့်အညီ ဆောင်ရွက်ရန် သဘောထား မှတ်ချက်အပေါ် **ကုမ္ပဏီမှ EMP ရေးဆွဲ ဆောင်ရွက် မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါ သည်။** | - ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက် မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင် အထည် ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်း ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက် များနှင့်အညီ ဆောင်ရွက်ရန် သဘောထား မှတ်ချက် အပေါ် **ကုမ္ပဏီမှ** NeoTech Myanmar Co., Ltd. **ဖြင့် EMP ရေးဆွဲဆောင်ရွက်လျက် ရှိပါကြောင်း ဝန်ခံကတိပြုထားပါ သည်။** | ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင် သည့်ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan -EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထား သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်ရန် သဘောထား မှတ်ချက်အပေါ် **ကုမ္ပဏီမှ EMP ရေးဆွဲ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါ သည်။** | ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင် အထည် ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်း ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင် ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ နှင့်အညီ ဆောင်ရွက်ရန် သဘောထား မှတ်ချက်အပေါ် **ကုမ္ပဏီမှ EMP ရေးဆွဲ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါ သည်။** |
| | CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ | - CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ သဘောထားမှတ်ချက်နှင့်အညီကုမ္ပဏီမှပြင်ဆင် တင်ပြခြင်းကို CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ လက်ခံနိုင်ကြောင်း စိစစ်ပြီး ဖြစ်ပါ သည်။ | - CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ သဘော ထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှပြင်ဆင်တင်ပြခြင်း ကို CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ လက်ခံနိုင်ကြောင်း စိစစ်ပြီးဖြစ်ပါ သည်။ | - CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ သဘော ထား မှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်း ကို CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ လက်ခံနိုင်ကြောင်း စိစစ်ပြီးဖြစ်ပါသည်။ | - CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ သဘောထားမှတ်ချက်နှင့်အညီကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်း ကို CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ လက်ခံနိုင်ကြောင်း စိစစ်ပြီးဖြစ်ပါ သည်။ |

| | | | | | |
|---|---|---|---|---|---|
| ၁၉။ | အခြား | - ကုန်ကြမ်းများကို တရုတ်နိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး ထွက်ရှိလာသော ကုန်ချောများကို တရုတ်ပြည်သူ့ သမ္မတနိုင်ငံနှင့် ဂျပန်နိုင်ငံများ သို့ ပြန်ပို့မည် ဖြစ်ပါသည်။ | - ကုန်ကြမ်းများကို တရုတ်နိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး ထွက်ရှိလာသော ကုန်ချောများကို အမေရိကန် နိုင်ငံနှင့် ဥရောပ နိုင်ငံများသို့ ပြန်ပို့မည်ဖြစ်ပါ သည်။ | ကုန်ကြမ်းများကို တရုတ်နိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး ထွက်ရှိလာသော ကုန်ချောများကို တရုတ် ပြည်သူ့ သမ္မတ နိုင်ငံနှင့် ဂျပန်နိုင်ငံများသို့ ပြန်ပို့မည် ဖြစ်ပါသည်။ | ကုန်ကြမ်းများကို တရုတ်နိုင်ငံမှ တင်သွင်းမည် ဖြစ်ပြီး ထွက်ရှိလာ သောကုန်ချောများကို အင်္ဂလန်၊ ပြင်သစ်နှင့် ဂျာမနီနိုင်ငံများသို့ တင်ပို့မည် ဖြစ်ပါ သည်။ |



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၀. ၁၁. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၃/ န-၁၄၁၆/၂၀၁၆(၁၅၄၉)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Mrs. Zhang, Rong မှ ၆၀% နှင့် Mr. Shi, Pengfei မှ ၄၀% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nan Tong Great One Myanmar Company Limited တည်ထောင်ကာ မြေကွက်အမှတ်-၇၀၊ ဇုန်-၂၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁. ၆၀၈ ဧက (၆၅၀၇. ၉၃ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦများအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၂၂. ၁၂. ၂၀၁၆)ရက်နေ့ တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၆/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၈)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဥ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Nan Tong Great One Myanmar Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Cabinet/30.,(10)




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC(OSS) /၀၁(၂၇၀/၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာ လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-2018
26/12

အကြောင်းအရာ။ **Nan Tong Great One Myanmar Company Limited မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၃/ န-၁၄၁၆/ ၂၀၁၆(၁၅၄၈)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Mrs. Zhang, Rong မှ ၆၀% နှင့် Mr.Shi, Pengfei မှ ၄၀%ထည့်ဝင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Nan Tong Great One Myanmar Company Limited တည်ထောင်ကာ မြေကွက်အမှတ် - ၇၀၊ ဇုန်-၂၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၀၈၈ဧက(၆၅၀၇.၉၃စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦများအားငှားရမ်း၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး(၁၀)နှစ် (၂)ကြိမ်ဖြင့်ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၆)လဖြစ်ကြောင်း၊

(ခ) ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ (၂%)ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု ( Corporate Social Respon-

sibility-CSR) လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဂ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်စေမည့် စွန့်ပစ်ရေဆိုး/ပစ္စည်း အနံ့အသက်နှင့် ဖုန်မှုန့်များ၊ ဆူညံမှုများအား ထိန်းချုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Nan Tong Great One Myanmar Company Limited မှ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်ပြီး မြေဆီလွှာထိခိုက်ပျက်စီးခြင်း၊

(ခ) ပုံစံဖြတ်ခြင်း၊ ပိတ်စညှပ်ခြင်း လုပ်ငန်းအဆင့်များတွင် ထွက်ရှိလာမည့် ဖြတ်စ၊ ညှပ်စ၊ အမှုန်အမွှားများကြောင့် လေထုနှင့်မြေထု ညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည် ဖြစ်သဖြင့် အသံဆူညံခြင်း၊

(ဃ) လောင်စာသုံး ဘွိုင်လာများ သုံးစွဲခြင်းကြောင့် ပြာနှင့်မီးသွေးများထွက်ရှိခြင်း၊ အခိုးအငွေ့များ လေထုအတွင်းသို့ထုတ်လွှတ်ခြင်း၊

(င) စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုစနစ်တကျ မရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Nan Tong Great One Myanmar Company Limited မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်

လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )**ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂) ၂၀၁၆( ၁၃၅၉၈ )

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်

NPT-3441
14.12.2016

သို့

MI-1950

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Nan Tong Great One Myanmar Company Limited မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃/န-၁၄၁၆/၂၀၁၆(၁၅၅၀)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၂)၊ မြေကွက်အမှတ်(၇၀)၌ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Mrs.Zhang ,Rong က ၆၀% နှင့် Mr. Shi,Pengfei က ၄၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Nan Tong Great One Myanmar Company Limited ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်တင်ပြလာမှုအပေါ် ရန်ကုန်တိုင်းဒေသကြီး CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်ဌေးဌေးစိုး၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေ စစ်ဆေးရေးဦးစီးဌာန၊ ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်း နှင့် အထည်ချုပ်စက်ရုံအမှတ် (၁၇) စက်ရုံမှူး ဒေါ်လှသီတာ တို့သည် တာဝန်ရှိသူများအား ၉-၁၂-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ Nan Tong Great One Myanmar Company Limited ၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှုကို စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **တစ်ထည်လိုအပ်ချက်နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. Coat | 2.2 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Jacket | 1.32 yds/pc | ။ |
| 3. Pants | 1.1 yds/pc | ။ |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက် နှုန်းထား၊ တားမြစ်သတ်မှတ်စံနှုန်းထားများနှင့် ကိုက်ညီမှု ရှိကြောင်း တွေ့ရှိရပါသည်။





| ချုပ်ထည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်ထည်လိုအပ် ချက်နှုန်းထား | လိုအပ်မည့် ကုန်ကြမ်းအရေ အတွက် |
|---|---|---|---|
| 1. Coat | 38000 dzs | 2.2 yds/pc | 1003200 yds |
| 2. Jacket | 40000 dzs | 1.32 yds/pc | 633600 yds |
| 3. Pants | 45000 dzs | 1.1 yds/pc | 594000 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 2230800 yds ကုန်ကျမည်ဖြစ်သဖြင့် အဆိုပြုချက်တွင် ဖော်ပြထားမှုနှင့်ကိုက်ညီမှု ရှိပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် လက်ရှိ လက်ခနှုန်းထား နှင့် နှိုင်းယှဉ်ရာတွင် ဆီလျော်မှု ရှိကြောင်း တွေ့ရှိရပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. Coat | 30 US$/ Dz | 30-40 US$/ Dz |
| 2. Jacket | 25 US$/Dz | 20-30 US$/Dz |
| 3. Pant | 20 US$/ Dz | 10-12 US$/ Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ (၃)မျိုးဖြစ်ပြီး အဓိက စက်အနေဖြင့် Single Needle Machines ၁၄၄၀ လုံး၊ Inter/ Over Lock Machines ၁၇၀ လုံး၊ Double Needle Machines ၁၃၆ လုံးဟု ဖော်ပြထားခြင်း၊ Skilled Workers ၁၈၀ ဦး၊ Unskilled Workers ၂၇၀ ဦး၊ Quality Control Workers ၂၀ ဦး၊ Finishing ၄၀ ဦးတို့သာ ခန့်ထားလုပ်ကိုင်စေ၍ စက်အရေအတွက်များပြီး လူအရေအတွက်နည်းနေသဖြင့် Special Machine နှင့် Helper အတွက် လူအင်အားခွဲချထားပါက စက်အားလုံး လည်ပတ်နိုင်ခြင်းမရှိကြောင်း တွေ့ရှိရပါသည်။ လူဦးရေအခြေခံတွက်ချက်မည်ဆိုပါက -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. Coat | စက်(၁)လိုင်း | 660 pcs/10 hour | 17050 dzs |
| 2. Jacket | စက်(၁)လိုင်း | 660 pcs/10 hour | 17050 dzs |
| 3. Pants | စက်(၁)လိုင်း | 1100 pcs/10 hour | 28417 dzs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှင့် နှိုင်းယှဉ်လျှင် ထုတ်လုပ်မှု ပြည့်မီရန် လိုအပ်၍ ပြင်ဆင်တင်ပြသင့်ပြီး ထုတ်လုပ်မှုအတိုင်းသာ ကုန်ကြမ်း တင်သွင်းသင့်ပါသည် -

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ဒါဇင်) |
|---|---|---|
| 1. Coat | 38000 dzs | 17050 -17550 dzs |
| 2. Jacket | 40000 dzs | 17050 -17550 dzs |
| 3. Pant | 45000 dzs | 28417 -28917 dzs |

၃။ သို့ဖြစ်ပါ၍ Nan Tong Great One Myanmar Company Limited အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

Nan Tong Great One Myanmar Company Limited

ရုံးလက်ခံ

မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ



စာအမှတ်၊ ၃၄/အလ/ခွဲ(၂) ၂၀၁၇( ၁၁ ၇၁ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Nan Tong Great One Myanmar Company Limited မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံ စစ်ဆေးချက် ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက- ၃/န-၁၄၁၆/၂၀၁၇(၁၁၅)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းချက်ပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်(၇၀)၌ Nan Tong Great One Myanmar Company Limited သည် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုလွှာထပ်မံ စိစစ်ချက်ပေးပို့လာခြင်းကိုစူနှင့် စပ်လျဉ်း၍ စိစစ်ဆောင်ရွက်ချက်ကို အောက်ပါအတိုင်းတင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ဒေါ်ဌေးဌေးစိုး | CMPလုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ ညွှန်ကြားရေးမှူး၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန | လက်ခံနိုင်ပါသည်။ | |

၁/၂/၂၀၁၇
ဥက္ကဋ္ဌ(ကိုယ်စား)
(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)
(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို
ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

# INVESTMENT PROPOSAL

FOR

MANUFACTURING OF GARMENTS ON CMP BASIS

UNDER FOREIGN INVESTMENT LAW

IN

THE REPUBLIC OF THE UNION OF MYANMAR

"NAN TONG GREAT ONE MYANMAR COMPANY LIMITED."

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ

အဝတ်အထည်အမျိုးမျိုးအား CMPစနစ်ဖြင့်

ချုပ်လုပ်သည့်လုပ်ငန်း

ဆောင်ရွက်ရန်အတွက်

ရင်းနှီးမြှုပ်နှံလိုသူ၏ လုပ်ငန်းအဆိုပြုချက်

“ နန်တုန်ဂရိတ်ဝမ်းမြန်မာကုမ္ပဏီလီမိတက် ”

# မာတိကာ

| အမှတ်စဉ် | အကြောင်းအရာ |
| --- | --- |
| ၂၀။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် |
| ၂၁။ | အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ |
| ၂၂။ | လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက် |
| ၂၃။ | ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုချက် |
| ၂၄။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက် အစီအစဉ် |
| ၂၅။ | မြေငှားရမ်းခြင်းအတွက် စာချုပ်မူကြမ်း |
| ၂၆။ | ငှားရမ်းမည့်မြေ၏မြေဂရန် |
| ၂၇။ | စက်ရုံခါတ်ပုံ |
| ၂၈။ | ထုတ်လုပ်မည့်ပစ္စည်းနမူနာများ |
| ၂၉။ | နိုင်ငံကူးလက်မှတ်များ (မိတ္တူ) |
| ၃၀။ | ငွေကြေးအထောက်အထားများ (မိတ္တူ) |
| ၃၁။ | Buyer Company နှင့် အထည်ချုပ်လုပ်ပေးသည့်ကုမ္ပဏီ သဘောတူစာချုပ် (မိတ္တူ) |
| ၃၂။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ စီမံခန့်ခွဲမှုစနစ်အားတင်ပြခြင်း |
| ၃၃။ | သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းစာအုပ် (မိတ္တူ) |
| ၃၄။ | ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ)၊ |
| ၃၅။ | ပုံစံ(၆) (၂၆) နှင့်လိပ်စာပြောင်း (မိတ္တူ)၊ |

**INDEX**



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO. 70 U TUN NYO STREET, HLAING THARYAR ZONE 2. YANGO

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No.(1), Thit Sar Road, Yankin Township, Yangon Region.

Dated: 15th November, 2016

Subject: Submitting Investment Proposal to Myanmar Investment Commission

Dear Sir,

Regarding about above subject. We "Nan Tong Great One Myanmar Co; Ltd" which established in ( 7th ) day of the month April..2016 is the 100% Foreign invested manufacturing company for production of garment(Coats, Jackets and Pants)by CMP basis. Our "Nan Tong Great One Myanmar Co; Ltd" is situated at No.(70), U Tun Nyo Street, (Corner of U Mohl Street and U Tun Nyo Street), Industrial Zone (2), Hlaing Thar Yar Township, Yangon Region. The Republic of Union Of Myanmar and our land area is (1.608 )Acre So, we would like to request a kind permission from Myanmar Investment Commission for doing subjected business with advanced technology and machines by CMP basis in Myanmar under the Foreign Investment Law.

Yours' truly.
With Regards.



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO. 70 U TUN NYO STREET, HLAING THARYAR ZONE 2. YANGO

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ နိုဝင်ဘာ လ( ၁၅ )ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

လေးစားရပါသောလူကြီးမင်းခင်ဗျား။ ။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ "နန်တုန်ဂရိတ်ဝမ်းမြန်မာကုမ္ပဏီလီမိတက်" "Nan Tong Great One Myanmar Co; Ltd" သည် ဧပြီလ၊ ( ၇ ) ရက်၊ ၂၀၁၆ ခုနှစ်တွင် "အဝတ်အထည်အမျိုးမျိုး ချုပ်လုပ်သောလုပ်ငန်း" လုပ်ကိုင်ရန်ရည်ရွယ်ချက်ဖြင့် နိုင်ငံခြားသား ၁၀၀% ရင်းနှီးမြှုပ်နှံမှု Foreign Direct Investment Company အနေဖြင့် ကုမ္ပဏီဖွဲ့စည်းတည်ထောင်ခွင့်ကို တင်ပြလျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန် (၂)၊ ဦးထွန်းညိုလမ်း (ဦးမိုလမ်းနှင့်ဦးထွန်းညိုလမ်းထောင့်)၊ အမှတ်(၇၀)ရှိ ဧရိယာ(၁.၆၀၈ ဧက)အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် "အဝတ်အထည်အမျိုးမျိုး" ချုပ်လုပ်သော (Garment Industry)ကို ပြည်ပမှ ကုန်ကြမ်းများ တင်သွင်း၍ (CMP) ချုပ်ခစားစနစ်ဖြင့် ချုပ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် အဆင့်မြင့်နည်းပညာများ ခေတ်မီစက်ကိရိယာများဖြင့်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

Zhang



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO. 70 U TUN NYO STREET, HLAING THARYAR ZONE 2. YANGO

To
Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No.(1), Thit Sar Road, Yankin Township, Yangon Region.

Dated: 15th November, 2016.

Subject: **Submitting Investment for Tax Exemption and Reliefs to Myanmar Investment Commission according to Section 27.**

Dear Sir,

1. Regarding about above subject. We "Nan Tong Great One Myanmar Co., Ltd" is applying to register as a 100% Foreign investment company under Foreign investment law in Myanmar. Our Factory is situated at No. (70), U Tun Nyo Street, (Corner of U Mohl Street & U Tun Nyo Street), Industrial Zone (2). Hlaing Thar Yar Township. Yangon Region. The Republic of Union Of Myanmar and our land area is(1.608 ) Acre So. we would like to request a kind permission from Myanmar Investment Commission for doing subjected business Manufacturing Industry for production of garment (Coats. Jackets and Pants) with advanced technology and machines in Myanmar by CMP basis.

2. Our Company will do the business by accepting of the CMP order for garment from China Company, which is registered in China.

3. Our Company plan to define to estimated authorized capital of USD (50,000,000)and the initial issued capital is USD(1,210,210) and which includes Investment for machineries and equipment. Motor vehicles. Office furniture and it also includes invested cash amount. We will apply again if we need to order more machinery.

4. We will hire local experts and foreign experts for our business activities relate with production of garment.

5. In order to get revenue for the Republic of Union of Myanmar. to provide job opportunities for Myanmar citizens, and to improve economic development. we kindly request to get permit from Myanmar Investment Commission and we also request for tax incentive and relief according to Section (27) in Foreign Investment Law.

6. Moreover, we would like to request for tax exemption to **Myanmar Investment Commission** for Commercial tax and Income Tax from income which will get from the manufacturing industry for the first (5) years.

7. We attached the following documents with the proposal
   1) The proposal by proposed director for doing foreign investment at Republic of the Union of Myanmar.
   2) Evidence of businesses and financial standing.
   3) Company Memorandum of Association and Articles of Association (Draft)
   4) Graph for calculation of national revenue.
   5) Table for Financial Profit for Government.

Yours' truly.
With Regards.

Zhang



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO. 70 U TUN NYO STREET, HLAING THARYAR ZONE 2. YANGO

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ နိုဝင်ဘာ လ(၁၅ )ရက်။

အကြောင်းအရာ။ ။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံ၊ နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၇တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။</u>

လေးစားရပါသောလူကြီးမင်းခင်ဗျား။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ "နန်တုန်ဂရိတ်ဝမ်းမြန်မာကုမ္ပဏီလီမိတက်" "Nan Tong Great One Myanmar Co; Ltd" သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၂)၊ ဦးထွန်းညိုလမ်း၊ (ဦးမိုလမ်းနှင့် ဦးထွန်းညိုလမ်းထောင့်) အမှတ် (၇၀)ရှိ ဧရိယာ(၁.၆၀၈ ဧက)အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် "အဝတ်အထည်အမျိုးမျိုး" ချုပ်လုပ်သော(Garment Industry)ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများ တင်သွင်း၍ (CMP)ချုပ်ခစားစနစ်ဖြင့်ချုပ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် အဆင့်မြင့်နည်းပညာများ ခေတ်မီ စက်ကိရိယာများဖြင့် ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြလျှောက် ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီသည် တရုတ်နိုင်ငံရှိ အထည်ချုပ်လုပ်သောကုမ္ပဏီများမှ CMP Order များရယူပြီး၊ CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးချုပ်လုပ်ခြင်းအား ဆောင်ရွက်ရမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့၏ကုမ္ပဏီသည် "အဝတ်အထည်အမျိုးမျိုးချုပ်လုပ်သည့်လုပ်ငန်း" လုပ်ကိုင်ရန်အတွက် မတည် ရင်းနှီးငွေကို အမေရိကန်ဒေါ်လာ(၅၀,၀၀၀,၀၀၀/-) ထားရှိကာ ကနဦး ရင်းနှီးမြှုပ်နှံခြင်း အမေရိကန်ဒေါ်လာ (၁,၂၁၀,၂၁၀)တွင် စက်ပစ္စည်းတန်ဖိုး၊ ပရိဘောဂတန်ဖိုး၊တို့အပြင် ငွေကြေးအားဖြင့် ရင်းနှီးမြှုပ်နှံမှုများလည်း ပါဝင်ပါသည်။ ထပ်မံ၍ လိုအပ်သည့်စက်ပစ္စည်းများကို လိုအပ်ပါက ခွင့်ပြုမိန့်ထပ်မံတောင်းခံ၍ တင်သွင်း မည်ဖြစ်ပါသည်။



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO.70 U TUN NYO STREET,HLAING THARYAR ZONE 2.YANGO



၄။ ကျွန်တော်တို့ ထုတ်လုပ်မှုလုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းများကို ပြည်တွင်း/ပြည်ပရှိ အတတ်ပညာရှင်များကို အသုံးပြု ထုတ်လုပ်သွားမည် ဖြစ်ပါသည်။ ထုတ်လုပ်ရရှိသော ကုန်ပစ္စည်းများကိုလည်း ပြည်ပသို့ ပြန်လည်တင်ပြရောင်းချသွားမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုတိုးတက်စေရန်လည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီ၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၇)တို့အရ အခွန်ဆိုင်ရာတင်သွင်းခွင့် နှင့် သက်သာခွင့်များကို ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၆။ ထို့အပြင် အဝတ်အထည်အမျိုးမျိုးကို ထုတ်လုပ်သည့်လုပ်ငန်းမှရရှိလာသော ပထမ(၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်နှင့်ဝင်ငွေခွန်တို့ကို သက်သာခွင့်ပြုရန်အတွက် **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့** လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

၇။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်များကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများမူကြမ်း၊

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(၅) နိုင်ငံတော်မှရရှိမည့် ဘဏ္ဍာရေးအကျိုးအမြတ်တွက်ချက်မှုဇယား၊

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

Zhang



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO. 70 U TUN NYO STREET, HLAING THARYAR ZONE 2. YANGO

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No.(1), Thit Sar Road, Yankin Township, Yangon Region.

Dated: 15th November, 2016

Subject: **Undertaking for business progress to Myanmar Investment Commission**

Dear Sir,

1. Regarding about above subject. We "Nan Tong Great One Myanmar Co; Ltd" is applying to register as a 100% Foreign investment company under Foreign investment law in Myanmar. Our Factory is situated at No. (70), U Tun Nyo Street (Corner of U Mohl Street & U Tun Nyo Street), Industrial Zone (2), Hlaing Thar Yar Township, Yangon Region. The Republic of Union Of Myanmar and our land area is ( 1.608 ) Acre So, we would like to request a kind permission from Myanmar Investment Commission for doing subjected business Manufacturing Industry for production of the garment with advanced technology and machines in Myanmar by CMP basis.
   (a) Our Company is 100% foreign investment company.
   (b) We undertake that our business will support in building up of National Economy
   (c) We will aware of environment issues, fire safety and will plan to prevent emergency situation and natural disaster. We will also arrange to control the pollution around the area with the guidance of rules and regulations in the Republic of Union of Myanmar.
   (d) "Nan Tong Great One Myanmar Co., Ltd" can guarantee that the machines we import are in good condition.
   (e) We undertake all foreign currency transactions related with this proposed business will do in either MFTB or MICB or private bank which got the authorized dealer license.
   (f) We will follow every rules and regulation for money transactions and exchange system which was set by government or using expenses and salaries of employees.
2. We "Nan Tong Great One Myanmar Co., Ltd" would like to undertake to follow all laws, rules and regulations, procedures, orders and instructions enforced by government of the Republic of the Union of Myanmar.

Yours' truly.
With Regards.

Zhang



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO. 70 U TUN NYO STREET, HLAING THARYAR ZONE 2. YANGO

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာ လ(၁၅ )ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။

လေးစားရပါသောလူကြီးမင်းခင်ဗျား။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ "နန်တုန်ဂရိတ်ဝမ်းမြန်မာကုမ္ပဏီလီမိတက်" " Nan Tong Great One Myanmar Co; Ltd" သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊လှိုင်သာယာစက်မှုဇုန်(၂)၊ ဦးထွန်းညိုလမ်း(ဦးမိုလမ်းနှင့်ဦးထွန်းညိုလမ်းထောင့်)၊ အမှတ်(၇၀)ရှိ ဧရိယာ (၁.၆၀၈ ဧက)အကျယ်အဝန်းရှိ မြေကွက်ပေါ်ရှိ စက်ရုံတွင် "အဝတ်အထည်အမျိုးမျိုး" ချုပ်လုပ်သော(Garment Industry) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) ချုပ်ခစားစနစ်ဖြင့် ချုပ်လုပ်ပြီး နိုင်ငံခြားသို့ပြန်လည်တင်ပို့နိုင်ရန် အဆင့်မြင့်နည်းပညာများ၊ ခေတ်မီစက်ကိရိယာများဖြင့်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့တင်ပြ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် နိုင်ငံခြားသား ၁၀၀% ရင်းနှီးမြှုပ်နှံသော ကုမ္ပဏီဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးလုပ်ငန်းလုပ်ဆောင်သော အခြေခံစီးပွားရေးလုပ်ငန်းအဆောက်အအုံကို အထောက်အကူပြုသောလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(ဂ) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအတွက်လည်း အစီအမံများပြုလုပ်သွားမည့်အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ဥပဒေများ၊နည်းဥပဒေစည်းမျဉ်းစည်းကမ်းလုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။



# NAN TONG GREAT ONE MYANMAR CO.,LTD

E-MAIL:hrm335@gmail.com ADD:NO.70 U TUN NYO STREET,HLAING THARYAR ZONE 2.YANGO



(ဃ) "နန်တုန်ဂရိတ်ဝမ်းမြန်မာကုမ္ပဏီလီမိတက်" " Nan Tong Great One Myanmar Co; Ltd" အနေဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းများရှိခဲ့ပါကလည်း ကောင်းမွန်သည့် အရည်အသွေးရှိသော ပစ္စည်းများကိုသာ တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(င) ဤအဆိုပြုချက်များဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့်ရရှိသောအခကြေးငွေများကို "မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်"(MFTB) သို့မဟုတ် "မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်"(MICB) သို့မဟုတ် "နိုင်ငံခြားငွေများကို တရားဝင်ရောင်းဝယ်ခွင့်ပြုမိန့်ရရှိထားသောပုဂ္ဂလိကဘဏ်များ"၏ ငွေစာရင်းကို မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ယင်းသို့ပေးသွင်းထားရှိသည့်နိုင်ငံခြားငွေများကို နိုင်ငံတော်မှသတ်မှတ်ခွင့်ပြုထားသည့် နိုင်ငံခြားငွေလဲလှယ်ခြင်းဥပဒေ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့် အခါအားလျော်စွာ ပြဌာန်းလာသော ညွှန်ကြားချက်များအတိုင်းလဲလှယ်ပြီး လုပ်ငန်းလိုအပ်ချက်နှင့် မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏ လုပ်အားခများအား ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် ကျွန်တော်များ "နန်တုန်ဂရိတ်ဝမ်းမြန်မာကုမ္ပဏီလီမိတက်" " Nan Tong Great One Myanmar Co; Ltd" အနေဖြင့်နိုင်ငံတော်အစိုးရမှပြဌာန်းထားသောဥပဒေများ၊ နည်းဥပဒေများ၊လုပ်ထုံးလုပ်နည်းများ၊စည်းကမ်းဥပဒေများ၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့် အခါအားလျော်စွာ ပြဌာန်းထားသော အမိန့်များ၊ စည်းမျဉ်းစည်းကမ်းများ၊ ညွှန်ကြားချက်များကိုလည်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ထပ်ဆင့်ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

Zhang

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

# ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN

# THE REPUBLIC OF THE UNION OF MYANMAR

Form (1)

*Proposal Form of Investor/Promoter for the investment to be made in the Republic of the Union of Myanmar*

To

*Chairman*
*Myanmar Investment Commission*

**Reference No. –MIC/Nan Tong GM-001/2016**
**Date: 15 - 11 - 2016.**

**I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Foreign Investment Law by furnishing the following particulars:-**

1. The Investor's or Promoter's:-

   (a) Name : **Mrs. Zhang, Rong**

   (b) Father's Name : **Mr. Zhang Guang Ju**

   (c) ID No./Passport No. : **P. P. No. E 09058709**

   (d) Citizenship : Chinese

   (e) Address :

   (i) Address in Myanmar : **No. (70), U Tun Nyo Street, (Corner of U Mohl Street & U Tun Nyo Street, Industrial Zone (2), Hlaing Thar Yar Township, Yangon Region.**

   (ii) Residence abroad : **No. 31, Hou Kou Street, Xuan Gang Town, Yuan Ping City, Shan Xi Province, China.**

   (f) Name of Principal Organization : -

   (g) Type of Business : -

   (h) Principal Company's Address : -

2. If the investment business is formed under Joint Venture , partners':-

   (a) Name : ) Please see "Annexure No (I) "

   (b) Father's Name : )

   (c) ID/NRC No/Passport No. : )

   (d) Citizenship : )

   (e) Address: )

   (i) Address in Myanmar : )

   (ii) Residence Abroad : )

   (f) Parent Company : )

   (g) Type of business : )

   (h) Parent Company's Address : )

Remarks: The following documents have been attached according to the above paragraph (1) and

(1) Company Registration Certificate (Copy) - Please see Attachment

(2) Passport (Copies) ; Please see Attachment

(3) Evidence about the business and financial conditions of the participants of the proposed investment business ; - Please see Attachment

3. Type of proposed Investment business: -

(a) Manufacturing : Manufacturing of Garment on CMP Basic

(b) Services Business related with manufacturing N/A

(c) Service N/A

(d) Others N/A

4. Type of business organization to be formed: -

(a) One hundred percent One Hundred Percent Foreign Investment Company

(b) Joint Venture:

(i) Foreigner and Citizen N/A

(ii) Foreigner and Government Department/Organization N/A

(c) By Contract based:

(i) Foreigner and Citizen N/A

(ii) Foreigner and Government Department/Organization N/A

..........................................................................................................

Remarks : Please see Annexure No. (I)

5. Information related to Company incorporation

(a) Authorized Capital USD-50,000,000/-

(b) Type of Share Ordinary Share

(c) Number of Shares 5,000,000 Shares for 10/- USD per Share

..........................................................................................................

Remarks: Please see Attachment for Company's Memorandum and Articles of Association.

